ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော The Yangtze River International Investment Group Co., Ltd. ၏ အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၈-၅-၂၀၁၇ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၆-၅-၂၀၁၇ | ၂၈-၆-၂၀၁၇ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁၂-၅-၂၀၁၇ | ၁၉-၅-၂၀၁၇ | |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၃၀-၅-၂၀၁၇ | ၁၃-၇-၂၀၁၇<br>၃၀-၈-၂၀၁၇ | |
| ၃။ | PAT (၁၅/၂၀၁၇)အစည်းအဝေးတင်ပြခြင်း | ၂၉-၅-၂၀၁၇ | - | အဆိုပြုချက်လက်ခံရရှိသည့်မှာရက်၆၀ ကျော်သော်လည်း ကုမ္ပဏီမှဌာနနှင့် ညှိနှိုင်းမှုမပြတ်သေး၍ အဆိုပြုချက် ပြန်ပို့သည်။ |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက်အား ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၆-၆-၂၀၁၇ | - | |
| ၅။ | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားနှင့်အညီဆောင်ရွက်ရန်ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၁၈-၇-၂၀၁၇<br>၁-၈-၂၀၁၇ | | |
| ၆။ | ကုမ္ပဏီသို့အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၉-၈-၂၀၁၇ | | |
| | | (၉၃)ရက် | | |
| ၇။ | ကုမ္ပဏီမှ ဌာနနှင့်ညှိနှိုင်းပြီးစီး၍ အဆိုပြုလွှာ(၇)စုံ ပြင်ဆင်ပေးပို့ခြင်း | ၁၂-၈-၂၀၁၇ | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PATအကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံ အမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | The Yangtze River International Investment Group Co., Ltd. | စီးပွားရေးနှင့် လူနေအဆောက်အဦ များ ဆောက်လုပ်ပြီး ငှားရမ်းခြင်း လုပ်ငန်း | ၁၅/၂၀၁၆ ၂၉-၅-၂၀၁၇ | -ပြည်ပဝန်ထမ်းခန့်ထားမည့် အရေအတွက်အား ပြန်လည် စိစစ်တင်ပြရန်။ | ပြင်ဆင်ပြီး | က |
| | | | | -ပြည်ပမှ တင်သွင်းမည့် Transformer အရေအတွက်နှင့် စက်ပစ္စည်းစာရင်းအား ပြန်လည် စိစစ် ၍ Phase အလိုက်ခွဲပြီး တင်ပြရန်။ | ပြင်ဆင်ပြီး | ခ |
| | | | | -Business Plan အား Phase အလိုက် ခွဲ၍ တင်ပြရန်။ | ပြင်ဆင်ပြီး | ဂ |

**The Yangtze River International Investment Group Co., Ltd. မှ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် တနင်္သာရီ တိုင်းဒေသကြီး၊ မြိတ်မြို့နယ်တွင် စီးပွားရေးနှင့် လူနေအဆောက်အဦများ ဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - The Yangtze River International Investment Group Co., Ltd.<br>Mr Zhang Jun |
| | ဖွဲ့စည်းမှုပုံစံ | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr Zhang Jun (Singapore) (၈၀%)<br>ဦးအောင်လွင်(ခ) ဦးအပ်စွေး (မြန်မာ) (၁၀%)<br>ဦးလှသန်း (မြန်မာ) (၁၀%) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - စီးပွားရေးနှင့်လူနေအဆောက်အဦများဆောက်လုပ်ပြီးငှားရမ်းခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - တနင်္သာရီ တိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ရေပုန်းရပ်ကွက်၊ ဦးပိုင်အမှတ်-က/၁/၁၊ က/၁/၂၊ က/၁/၃ ၊ အကွက် အမှတ်-၃၀ ရှိ မြေဧရိယာ(၁၁.၀၉၂)ဧက |
| | မြေပိုင်ရှင် | - ဦးလှသန်း |
| | မြေအကျယ်အဝန်း | - ၁၁.၀၉၂ ဧက (၄၄၈၈၇.၇၇စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၁၂၀၀၀၀ (၁ စတုရန်းမီတာလျှင်အမေရိကန်ဒေါ်လာ ၂.၇ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၅ နှစ် |
| ၅။ | မတည်ငွေရင်းပမာဏ | - US$ ၁၇၄.၀၀ သန်း |
| ၆။ | ထည့်ဝင်သည့် အမျိုးအစား | - **US$ (သန်း)** |

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| - ငွေသား | - | ၅.၁၀ | ၅.၁၀ |
| - ဆောက်လုပ်ရေးပစ္စည်းများ | ၇.၁၃ | ၁၃၄.၁၀ | ၁၄၁.၂၃ |
| - စက်ပစ္စည်းများ | ၂၁.၆၇ | - | ၂၁.၆၇ |
| - မြေငှားရမ်းခထည့်ဝင်ငွေ | ၆.၀၀ | - | ၆.၀၀ |
| **စုစုပေါင်း** | **၃၄.၈၀** | **၁၃၉.၂၀** | **၁၇၄.၀၀** |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ(၆ နှစ်မြောက်) | - US$ ၄.၂၉ သန်း |
| | အသုံးစရိတ် | - US$ ၄.၀၃ သန်း |
| | အသားတင်အမြတ် | - US$ ၀.၂၆ သန်း |
| ၈။ | ဝန်ထမ်းအင်အား | |
| | - ပြည်တွင်း | ၆၁ ဦး(ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ တစ်လလျှင် US$ ၁၂၀နှင့် အမြင့်ဆုံးလစာမှာတစ်လလျှင် US$ ၁၈၀ ဖြစ်ပါသည်။ ) |
| | - ပြည်ပ | ၂၃ ဦး(ပြည်ပမှဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ တစ်လလျှင် US$ ၇၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ US$ ၂၂၀ ဖြစ်ပါသည်။) |

၉။ ပုံမှန်နှစ်ဝန်ဆောင်ခနှုန်း

- ၃၂ထပ်အဆောက်အဦ(၈)လုံး၊၂၈ထပ် အဆောက်အဦ(၄)လုံးစုစုပေါင်း ၁၂လုံး အား တည်ဆောက်ရေးကာလ(၅)နှစ်အတွင်းအပိုင်း(၃)ပိုင်းခွဲ၍ တည်ဆောက်မည်ဖြစ်ပါသည်။

| **အမျိုးအစား** | **ငှားရမ်းနိုင်သော ဧရိယာ (စတုရန်းပေ)** | **၁ စတုရန်းပေ ငှားရမ်းခနှုန်း(US$)** |
|---|---|---|
| Condo Residential | ၃၁၄၁၅၆၂.၈၆ | ၁.၄၅ |
| Office Space & Shop House | ၂၄၉၅၇၂.၀၀ | ၁.၉၀ |
| Property Management Fee - Condo Residential | - | ၀.၀၉ |
| Property Management Fee - Office Space & Shop House | - | ၀.၁၂ |
| **စုစုပေါင်း** | **၃၃၉၁၁၃၄.၈၆** | - |

၁၀။ CSR

- နှစ်စဉ်အသားတင်အမြတ်၏ ၂%

၁၁။ စိစစ်တင်ပြချက်

- လုပ်ငန်းအပေါ် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနနှင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနတို့၏သဘောထားများရရှိပြီးဖြစ်ပါသည်။
- ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် အရ ဌာနနှင့်ကုမ္ပဏီတို့ညှိနှိုင်းဆွေးနွေးပြီးဖြစ်ပါသည်။
- လုပ်ငန်းအမျိုးအစားသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင် မပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် မရရှိနိုင်ပါ။
- ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ US$ ၁၃၃.၁၄ သန်းဖိုးနှင့် စက်ပစ္စည်းများ US$ ၈.၀၉ သန်းဖိုး အား တည်ဆောက်ရေးကာလ ၅ နှစ် အတွင်း Phaseအလိုက် အခွန်ကင်းလွတ်ခွင့်လျှောက်ထား၍ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

# ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၄ /န-၀၉၁ / ၂၀၁၇( ၆၂၃ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် စက်တင်ဘာလ ၁၂ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် The Yangtze River International Investment Group Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်တွင် စီးပွားရေးနှင့် လူနေအဆောက်အဦများ ဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ South Asia International Group Pte Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံသားများဖြစ်သော ဦးအောင်လွင်(ခ) ဦးအပ်စွေးနှင့် ဦးလှသန်းတို့မှ ၁၀% စီ ထည့်ဝင်ထားသော The Yangtze River International Investment Group Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ ရေပုန်းရပ်ကွက်၊ အကွက်အမှတ်-၃၀၊ ဦးပိုင်အမှတ်-က/၁/၁၊ က/၁/၂၊ က/၁/၃ ရှိ မြေဧရိယာ ၁၁.၀၉၂ ဧကတွင် စီးပွားရေးနှင့် လူနေအဆောက်အဦများ ဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ရန် ဒါရိုက်တာဦးလှသန်း အမည်ပေါက် နှစ် ၉၀ ဂရန်ရရှိထားသော မြေဧရိယာ၁၁.၀၉၂ဧက(၄၄၈၈၇.၇၇ စတုရန်းမီတာ)အား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၁၂၀,၀၀၀ (၁ စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂.၇ နှုန်း) ဖြင့် ငှားရမ်းမည် ဖြစ်ပြီး မြန်မာနိုင်ငံသားမှ မြေငှားရမ်းခ၏တစ်စိတ်တစ်ဒေသကို ထည့်ဝင်မည်ဖြစ်ကြောင်း မြေငှားစာချုပ်(မူကြမ်း)နှင့် ဖက်စပ်စာချုပ်(မူကြမ်း)တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၇၄.၀၀ သန်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု ပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ပြည်တွင်း (US$သန်း) | ပြည်ပ (US$သန်း) | စုစုပေါင်း (US$သန်း) |
|---|---|---|---|---|
| (က) | ငွေသား | - | ၅.၁၀ | ၅.၁၀ |
| (ခ) | ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ | ၇.၁၃ | ၁၃၄.၁၀ | ၁၄၁.၂၃ |
| (ဂ) | စက်ပစ္စည်းများ | ၂၀.၆၇ | | ၂၀.၆၇ |
| (ဃ) | မြေငှားရမ်းခထည့်ဝင်ငွေ | ၆.၀၀ | | ၆.၀၀ |
| | **စုစုပေါင်း** | **၃၄.၈၀** | **၁၃၉.၂၀** | **၁၇၄.၀၀** |

၄။ တည်ဆောက်ရေးကာလတွင် ပြည်တွင်းဝန်ထမ်း ၇၆၆ ဦး၊ ပြည်ပဝန်ထမ်း ၁၉၁ ဦး နှင့် လုပ်ငန်း လည်ပတ်သည့်ကာလတွင် ပြည်တွင်း ဝန်ထမ်း ၆၁ ဦး ၊ ပြည်ပဝန်ထမ်း ၂၃ ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ တစ်လလျှင် US$ ၁၂၀ နှင့် အမြင့်ဆုံး လစာမှာ တစ်လလျှင် US$ ၁၈၀ ဖြစ်ပါသည်။ ပြည်ပမှဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ တစ်လလျှင် US$ ၇၀၀ ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ US$ ၂၂၀ ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ (၅၀)နှစ်ဖြစ်ပြီး ၁၂ထပ်အဆောက်အဦ(၈)လုံး၊ ၂၈ ထပ် အဆောက်အဦ(၄)လုံး စုစုပေါင်း ၁၂လုံးအား တည်ဆောက်ရေးကာလ(၅)နှစ်အတွင်း အပိုင်း (၃)ပိုင်းခွဲ၍ တည်ဆောက်မည်ဖြစ်ပါသည်။

ကန့်သတ်

လုပ်ငန်း၏ ဝင်ငွေရရှိမှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ငှားရမ်းနိုင်သော ဧရိယာ (စတုရန်းပေ) | ၁ စတုရန်းပေ ငှားရမ်းခနှုန်း(US$) |
|---|---|---|---|
| (က) | Condo Residential | ၃၁၄၁၅၆၂.၈၆ | ၁.၄၅ |
| (ခ) | Office Space& Shop House | ၂၄၉၅၇၂.၀၀ | ၁.၉၀ |
| (ဂ) | Property Management Fee | - | |
| | - Condo Residential | | ၀.၀၉ |
| (ဃ) | Property Management Fee | - | |
| | - Office Space & Shop House | | ၀.၁၂ |
| | **စုစုပေါင်း** | **၃၃၉၁၁၃၄.၈၆** | - |

၆။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊အဖွဲ့အစည်းများ၏ သဘောထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ပြီး သက်ဆိုင်ရာ စုပေါင်းအဆောက်အအုံ ဆိုင်ရာဥပဒေ၊ နည်းဥပဒေနှင့်အညီ ဆောင်ရွက်ပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိပါက ကန့်ကွက်ရန်မရှိကြောင်း။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment- EIA) ကို ရေးဆွဲတင်ပြရန်နှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်းမစတင်မီ ယင်းလုပ်ငန်း ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်။

(၂) ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။ [ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment- EIA) နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan- EMP) ရေးဆွဲရန် Environment (Wunkyin)Myanmar Cooperative-EMC Co., Ltd. သို့ အပ်နှံထားပါကြောင်းတင်ပြထားပါသည်]

(ဂ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေဖက်အပိုင်းတွင် အများပြည်သူ အပန်းဖြေ အနားယူရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ် အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်ခြင်းနှင့်ပတ်သက်၍ ရေဒေသပိုင်း အသုံးပြုခွင့် ရရှိရေး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံ သီးခြားတင်ပြရန်နှင့် စီးပွားဖြစ်အသုံးပြုမည့်နေရာများတည်ဆောက်မည်ဆိုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ သတ်မှတ်ရေဒေသ ငှားရမ်းခများပေးဆောင်ရန်။

(၂)ပတ်ဝန်းကျင်ထိခိုက်မှု ရှိ-မရှိ၊ မြစ်ဆိပ်ကမ်းအဝင်ရေလမ်းကြောင်းနှင့် လွတ်ကင်းမှု ရှိ-မရှိ ရေစီးရေလာ အဟန့်အတား မဖြစ်စေရေးနှင့် သောင်ဖြစ်ထွန်းပေါ်ပေါက်နိုင်ခြေ ရှိ - မရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စိစစ်ခွင့်ပြုချက်ရယူရန်။

(၃) သဘာဝဘေးအန္တရာယ်ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ဒီရေလှိုင်းများ၏ ရိုက်ခတ်မှုကာကွယ်နိုင်မည့်အစီအမံများနှင့် မြစ်တွင်းသို့ ရေဆိုးနှင့်အမှိုက်သရိုက်များစွန့်ပစ်မှုတို့ကို ထိန်းသိမ်းကာကွယ်နိုင်မည့် အစီအမံများ ထည့်သွင်း ဆောင်ရွက်သွားရန်။

၇။ အထက်ပါ သဘောထားအရ ကုမ္ပဏီမှ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ညှိနှိုင်းဆွေးနွေးခဲ့ပြီး တနင်္သာရီတိုင်းဒေသကြီး ဆိပ်ကမ်းအရာရှိချုပ်မှ ကွင်းဆင်းလေ့လာခဲ့ရာ ဒေသဖွံ့ဖြိုးရေးအတွက် အထောက်အကူဖြစ်စေပြီး ယင်းအဆောက်အဦကြောင့် မြိတ်ဆိပ်ကမ်းအဝင် ရေလမ်းကြောင်းကို ဆိုးရွားစွာ ထိခိုက်နိုင်ချေမရှိကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြား လာပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၈။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်ရှိ (၄-၇-၂၀၁၇) နေ့ရှိ ငွေလက်ကျန် US$ ၅၄၀၀၀၀ တင်ပြထားပါသည်။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဉ်၊ မီးဘေး ကြိုတင် ကာကွယ်ရေး အစီအစဉ်များနှင့် CSR အဖြစ် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်းကို အသုံးပြုမည်ဖြစ် ကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) လုပ်ငန်းအမျိုးအစားသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် မပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့် မရရှိနိုင်ပါ။

(ခ) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ US$ ၁၃၃.၁၄ သန်းဖိုးနှင့် စက်ပစ္စည်းများ US$ ၈.၀၉ သန်းဖိုး အား တည်ဆောက်ရေးကာလ ၅ နှစ် အတွင်း Phase အလိုက် အခွန်ကင်းလွတ်ခွင့် လျှောက်ထား၍ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိ ကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် The Yangtze River International Investment Group Co., Ltd. တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်တွင် စီးပွားရေးနှင့် လူနေအဆောက်အဦများ ဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ(က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့**
**ထားဝယ်မြို့**

စာအမှတ်၊ ၆၂၀၉ /၆၀၀(၄)/၂-၁/အဖရ(တနင်္သာရီ)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၂၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **စီးပွားရေးနှင့် လူနေအဆောက်အဦများ ဆောက်လုပ်ပြီး ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ရန်ကုန်မြို့၏ (၁၆.၅.၂၀၁၇)ရက်စွဲပါ စာအမှတ်၊ မရက-၄(အ)/ န-၀၉၁/ ၂၀၁၇(၃၉၉)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ မြိတ်မြို့၊ ရေပုန်းရပ်ကွက်၊ ကမ်းနားလမ်း၊ ဦးပိုင်အမှတ်(က/၁/၁၊က/၁/၂၊က/၁/၃)၊ အကွက်အမှတ်(၃၀)၊ မြေဧရိယာ(၁၁.၀၉၂)ဧကပေါ်တွင် The Yangtze River International Investment Group Co.,Ltd မှ စီးပွားရေးနှင့် လူနေအဆောက်အဦများအား ဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ရည်ညွှန်းပါစာဖြင့် တောင်းခံလာခြင်းအပေါ် အောက်ဖော်ပြပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) မြိတ်မြို့သည် စီးပွားရေးအရ အချက်အချာကျသော မြို့တစ်မြို့ဖြစ်သော်လည်း မြို့နှင့်စပ်လျဉ်းသည့် အသေးစိတ်စီမံချက်(Detail Plan) မရှိဘဲ (Concept Plan) သာ ရှိသဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းများအား ထိခိုက်နိုင်မှု မရှိကြောင်း ၊

( ခ ) မြိတ်မြို့၊ ရေပုန်းရပ်ကွက် ၊ ကွင်းအမှတ်(၃၀) ၊ ရေပုန်းကွင်း ၊ ဦးပိုင်အမှတ် (က/၁/၁)၊ ဧရိယာ(၅.၀၀)ဧက၊ ဦးပိုင်အမှတ် (က/၁/၂)၊ ဧရိယာ(၁.၀၉၂)ဧက၊ ဦးပိုင်အမှတ်(က/၁/၃)၊ ဧရိယာ(၅.၀၀)ဧကတို့မှာ ခရိုင်မြေအမှုအမှတ်၊ ၄၈ / ၄၉ / ၅၀ / ၂၀၁၆-၂၀၁၇တို့အရ (၂၀.၁၀.၂၀၁၆)မှ (၁၉.၁၀.၂၀၄၆)အထိလည်းကောင်း၊ ဦးပိုင်အမှတ်(၃၃၅)၊ ဧရိယာ(၀.၃၆၄)ဧကမှာ ခရိုင်မြေမှုအမှတ်၊ ၁ / ၂၀၁၅-၂၀၁၆အရ (၁.၄.၂၀၁၅) မှ (၃၁.၃.၂၀၄၅)အထိလည်းကောင်း၊ စုစုပေါင်းမြေဧရိယာ(၁၁.၄၅၆)ဧကသည် လူနေထိုင်ရန်အတွက် ဦးလှသန်းအမည်ဖြင့်

နှစ်(၃၀)မြေငှားဂရန်ရထားသော မြေပေါ်တွင် ဆောက်လုပ်ခြင်းဖြစ်ပြီး စီမံကိန်းကာလမှာ ၂၀၁၇ခုနှစ်မှ ၂၀၂၀နှစ်အထိ စီမံကိန်းကာလအား (၅)နှစ်သတ်မှတ်ဆောင်ရွက်ခြင်းဖြစ်သည့်အတွက် ဆောင်ရွက်ဆဲကာလ၌ ဒေသခံကျွမ်းကျင်အလုပ်သမား(၅၀၀)ဦး အလုပ်အကိုင်အခွင့်အလမ်း ရရှိနိုင်မည်ဖြစ်သည့်အပြင် စီမံကိန်းပြီးသွားသည့်ကာလတွင်လည်း အတည်ပြုခန့်ထားနိုင်သည့် လုပ်သား(၁၀၀)ဦး ခန့်ထားနိုင်ကြောင်း စိစစ်တွေ့ရှိရသဖြင့် အလုပ်အကိုင် အခွင့်အလမ်းကို အထောက်အကူဖြစ်စေနိုင်ကြောင်း၊

(ဂ) ခရီးသွားလုပ်ငန်းဖွံ့ဖြိုးတိုးတက်လာသည်နှင့်အမျှ မြေနေရာရှားပါး လာမှုကြောင့် အိုးအိမ်မလုံလောက်မှုကို တစ်ဖက်တစ်လမ်းမှ အထောက်အကူပြုနိုင်ရန်အတွက် စီမံကိန်းတွင်(Shopping Centre) (၂၅၀)ခန်း၊လူနေအိမ်ခန်း (၂၆၉၇)ခန်း၊ အပန်းဖြေဧရိယာ( ၁၄၁၆၀ $Sq^2$ meter)ပေါ်တွင် ရေကူးကန်၊ အားကစားကွင်း၊ မင်္ဂလာခန်းမ၊ စားသောက်ဆိုင်၊ ရုပ်ရှင်ရုံများသို့ လည်ပတ်သွားလာနိုင်သဖြင့် ဒေသတွင်းစီးပွားရေးအနေဖြင့် တိုးတက်မှုအား အထောက်အကူပြုနိုင်ကြောင်း၊

(စ) စီမံကိန်းဧရိယာအဖြစ် အသုံးပြုမည့် မြေကြီးပေါ်တွင် ရေဆိုးရေညစ်များ ထွက်ရှိသည့် စက်ရုံဆောက်လုပ် အသုံးပြုခြင်းမျိုးမဟုတ်ဘဲ လူနေအိမ်အဖြစ်သာ ဆောက်လုပ်သွားမည်ဖြစ်ပြီး ဆောက်လုပ်မည့် အဆောက်အဦများမှာလည်း ရစ်ချစ်စတာ စကေး(၆.၅)အဆင့်ရှိ ငလျင်ဒဏ်ခံနိုင်သည့်အပြင် သဘာဝပတ်ဝန်းကျင် ရေလွှမ်းမိုးမှုမှ ကာကွယ်နိုင်အောင်အတွက်လည်း ပင်လယ်ရေမျက်နှာပြင်နှင့်အထက် ( ၆' )အထက်တွင် ဆောက်လုပ်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအရ ကျွမ်းကျင်ပညာရှင်များအနေဖြင့်လည်း လာရောက်စစ်ဆေးမှုများရှိ၍ ထူးထူးခြားခြား ထိခိုက်နိုင်မှု မရှိကြောင်း၊ ဆောက်လုပ်မည့် စီမံကိန်းဧရိယာသည် မြို့မြေအမျိုးအစားဖြစ်ပြီး တည်ဆောက်မည့် စီမံကိန်းပါ အဆောက်အဦများ၏ (၁.၅)မိုင်ပတ်လည်တွင် ရှေးဟောင်း အဆောက်အဦများ၊ လူမှုရေး၊ ဘာသာရေးအဆောက်အဦများနှင့် လွတ်ကင်းမှုရှိခြင်းတို့ကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ကြောင်း။

၂။ သို့ပါ၍ The Yangtze River International Investment Group Co.,Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ မြိတ်မြို့၊ ရေပုန်းရပ်ကွက်၊ ကမ်းနားလမ်းတွင် စီးပွားရေးနှင့် လူနေအဆောက်အဦများအား ဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်မည့်ကိစ္စနှင့် ပတ်သက်၍ သက်ဆိုင်ရာစုပေါင်း အဆောက်အအုံဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့်အညီ ဆောင်ရွက်ပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်မှု မရှိပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားပါသည်။

28/6/2017

ဝန်ကြီးချုပ်(ကိုယ်စား)

(ကြည်လှိုင်၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီး)

မိတ္တူကို

လက်ခံစာတွဲ

မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁(၁၂၇/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မေလ ၁၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **The Yangtze River International Investment Group Co., Ltd. မှ စီးပွားရေးနှင့် လူနေအဆောက်အဦများ ဆောက်လုပ်ပြီးငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄(အ)/ န-၀၉၁/ ၂၀၁၇ (၃၈၇)

၁။ စင်ကာပူနိုင်ငံ South Asia International Group Pte Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံသားများဖြစ်သော ဦးအောင်လွင်(ခ) ဦးအပ်စွေးနှင့် ဦးလှသန်းတို့မှ ၁၀% စီထည့်ဝင်ပြီး The Yangtze River International Investment Group Co., Ltd. တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ ရေပုန်းရပ်ကွက်၊ ဦးပိုင်အမှတ်- က/၁/၁၊ က/၁/၂၊ က/၁/၃၊ အကွက်အမှတ်-၃၀ ရှိ မြေဧရိယာ ၁၁.၀၉ ဧက (၄၄,၈၇၉.၆၃ စတုရန်းမီတာ)တွင် စီးပွားရေးနှင့်လူနေအဆောက်အဦများဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသောအဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာတည်ဆောက်ရေးကာလမှာ (၅)နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းမြေဧရိယာ (၄၄,၈၇၉.၆၃ စတုရန်းမီတာ) ပေါ်တွင် စုစုပေါင်းအဆောက်အဦ (၁၂) လုံးပါဝင်ပြီး အထပ် (၃၂) ထပ်ပါ အဆောက်အဦအမှတ်- ၅,၆,၇,၈,၉,၁၀ကို residential အဖြစ်လည်းကောင်း၊ အထပ် (၂၈) ထပ်ပါ အဆောက်အဦအမှတ်- ၁,၂,၁၁,၁၂ ရှိပထမထပ်မှ တတိယထပ်အထိကို commercial အဖြစ်လည်းကောင်း၊ စတုတ္ထထပ်မှ (၂၅) ထပ်အထိကို residential အဖြစ်လည်းကောင်း၊ အထပ် (၃၂) ထပ်ပါ အဆောက်အဦအမှတ်- ၃ နှင့် ၄ ရှိ ပထမထပ်မှ တတိယအထပ်အထိကို residential အဖြစ်လည်းကောင်း၊ စတုတ္ထထပ်မှ (၃၂) ထပ်အထိကို residential အဖြစ်လည်းကောင်း၊ (၃၁,၀၅၇.၄၃ စတုရန်းမီတာ) ကို ကားရပ်နားရန်နေရာအဖြစ်လည်းကောင်းစီစဉ် ဆောက်လုပ်သွားမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းကို Hong Kong Future Group Co., Ltd. ဖြင့် တည်ဆောက်သွားမည်

ဖြစ်ကြောင်း၊

(ဃ) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာထိခိုက်ပျက်စီးမှုမရှိစေရန် ပတ်ဝန်းကျင်ထိခိုက်မှုဆိုင်ရာ ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ကာ စွန့်ပစ်ပစ္စည်း/အရည်များနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော စံချိန်၊ စံညွှန်းများနှင့် အညီဆောင်ရွက်မည်ဖြစ်ပြီး ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလည်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) The Yangtze River International Investment Group Co., Ltd. မှ စီးပွားရေးနှင့်လူနေအဆောက်အဦများ ဆောက်လုပ်ပြီးငှားရမ်းခြင်းလုပ်ငန်းအတွက်တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေသားပြုပြင်ဖော်ထုတ်ခြင်းကြောင့်ထွက်ရှိလာမည့် အမှုန့်၊ အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံးစက်နှင့်ယာဉ်ယန္တရားများ၏ဆူညံသံကြောင့်အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ လောင်စာဆီစသည့် စွန့်ပစ်အဆီ/အရည်/အစိုင်အခဲများကြောင့် ပတ်ဝန်းကျင်မြေထုနှင့် မြိတ်ကမ်းရိုးတန်းရှိ ပင်လယ်ရေ ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အဆိုပြုစီမံကိန်းတွင်နေထိုင်သောပြည်သူများနှင့် ဈေးဆိုင်ခန်းများမှ စွန့်ပစ်ပစ္စည်းအရည်၊ အစိုင်အခဲများ၊ မိလ္လာအညစ်အကြေးများကြောင့်ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း စွန့်ပစ်ရေဆိုးများကို ဗဟိုစွန့်ပစ်ရေဆိုး သန့်စင်သည့်စနစ်ဖြင့် သန့်စင်ပြီး ပင်လယ်အတွင်းသို့ စွန့်ပစ်မည်ဖြစ်သဖြင့် သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ စွန့်ပစ်ရန်လိုအပ်ပြီး သတ်မှတ်ချက်များနှင့်ကိုက်ညီမှုမရှိပါက ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ပြီး ပြည်သူများကို ကူးစက်ရောဂါနှင့်ဆိုးကျိုးများ ဖြစ်စေနိုင်ခြင်း၊ အပန်းဖြေဆိပ်ကမ်းတည်ဆောက်ခြင်းကြောင့် ရေနေ သတ္တဝါတို့၏ ဂေဟစနစ်ကို ထိခိုက်ပျက်စီးစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ The Yangtze River International Investment Group Co., Ltd. မှ စီးပွားရေးနှင့်လူနေအဆောက်အဦများ ဆောက်လုပ်ပြီးငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း

၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၃% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environmental Impact Assessment-EIA) မစတင်မီအဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ** (EIA) ကို ဆောင်ရွက်ပြီး သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၁၉/၅/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

၁၉/၅/၁၇

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ တနင်္သာရီတိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး



စာအမှတ်၊ ပဆ-(၃)/(တံတား-MPA)/၂၀၁၇ ( ၈၉ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက- ၄/န-၀၉၁/၂၀၁၇ (၄၃၁)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၆-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက- ၄/န-၀၉၁/၂၀၁၇ (၄၉၃)

၁။ The Yangtze River International Investment Group Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ ရေပုန်းရပ်ကွက်၊ ဦးပိုင်အမှတ် (က/၁/၁)၊ (က/၁/၂) နှင့် (က/၁/၃)၊ အကွက်အမှတ် (၃၀) ရှိ မြေဧရိယာ (၁၁.၀၉၂) ဧကတွင် စီးပွားရေးနှင့်လူနေအဆောက်အအုံများဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် အဆိုပါ စီးပွားရေးနှင့်လူနေအဆောက်အအုံများဆောက်လုပ်မည့်နေရာသည် ဆိပ်ကမ်းနှင့်နီးကပ်ပါသောကြောင့် သဘောထားမှတ်ချက်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာများဖြင့် ညှိနှိုင်းလာသည့်ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ The Yangtze River International Investment Group Co.,Ltd မှ တည်ဆောက်မည့် စီးပွားရေးနှင့်လူနေအဆောက်အအုံများသည် မြိတ်မြို့ မြိတ်မြစ်ကမ်းနဖူးနှင့် အလွန်နီးကပ်စွာ တည်ရှိနေကြောင်း စိစစ်တွေ့ရှိရပြီး၊ အဆောက်အဦများမှာလည်း အထပ် (၃၂)ထပ်အထိရှိသော အထပ်မြင့်အဆောက်အအုံများပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ထိုကဲ့သို့ အထပ်မြင့် အဆောက်အအုံများ၏ မြေဖိအားဒဏ်ကြောင့် မြိတ်မြစ်ကမ်းနဖူးရှိ ရေကာတံတိုင်းများ ထိခိုက်ပျက်စီးမှု မရှိစေရန် အထူးဂရုပြုတည်ဆောက်ရန်လိုကြောင်း သုံးသပ်တွေ့ရှိရပါသည်။

၃။ The Yangtze River International Investment Group Co., Ltd သည် မြိတ်မြစ်ကမ်းနဖူးတစ်လျှောက်တွင် အများပြည်သူအပန်းဖြေအနားယူရန်နေရာများနှင့် ရေဘက်ပိုင်းတွင် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများကိုပါထည့်သွင်းအကောင်အထည်ဖော်တည်ဆောက်သွားရန်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ ထို့ကြောင့် မြိတ်မြို့၊ မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေဘက်အပိုင်းတွင် အများပြည်သူအပန်းဖြေအနားယူ ရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်ခြင်းနှင့် ပတ်သက်၍ ရေဒေသပိုင်း အသုံးပြုခွင့်ရရှိရေးအတွက်

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံ အသုံးပြုခွင့် သီးခြားတင်ပြရန်လိုအပ်မည်ဖြစ်ပါသည်။ ထို့အပြင် The Yangtze River International Investment Group Co., Ltd မှ မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေဘက်အပိုင်းတွင် အများပြည်သူအပန်းဖြေအနားယူရန်နေရာများအပြင် စီးပွားဖြစ်အသုံးပြုမည့်နေရာများ တည်ဆောက်မည်ဆိုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ သတ်မှတ်ရေဒေသငှားရမ်းခများပေးဆောင်ရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ The Yangtze River International Investment Group Co., Ltd သည် မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေထဲအပိုင်းတွင် အများပြည်သူအပန်းဖြေအနားယူရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်သည့်အခါ ပတ်ဝန်းကျင်ထိခိုက်မှု ရှိ-မရှိ၊ မြိတ်ဆိပ်ကမ်းအဝင်ရေလမ်းကြောင်းနှင့် လွတ်ကင်းမှုရှိ-မရှိ၊ ရေစီးရေလာအဟန့်အတားမဖြစ်စေရေးနှင့် သောင်ဖြစ်ထွန်းပေါ်ပေါက်နိုင်ခြေ ရှိ-မရှိ စသည်တို့ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စိစစ်ခွင့်ပြုချက် ရရှိရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ ထို့ပြင်မြစ်ကမ်းနဖူးတွင် စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်မည် ဖြစ်သဖြင့် သဘာဝဘေးအန္တရာယ်ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ဒီရေလှိုင်းများ၏ရိုက်ခတ်မှုကို ကာကွယ်နိုင်မည့် အစီအမံများနှင့် မြစ်တွင်းသို့ ရေဆိုးနှင့်အမှိုက်သရိုက်များ စွန့်ပစ်မှုတို့ကို ထိန်းသိမ်းကာကွယ်နိုင်မည့် အစီအမံများ ထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသည်။

၇။ သို့ဖြစ်ပါ၍ The Yangtze River International Investment Group Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ ရေပုန်းရပ်ကွက်၊ ဦးပိုင်အမှတ် (က/၁/၁)၊ (က/၁/၂) နှင့် (က/၁/၃)၊ အကွက်အမှတ်(၃၀)ရှိ မြေဧရိယာ (၁၁.၀၉၂)ဧကတွင် စီးပွားရေးနှင့် လူနေအဆောက်အအုံများဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြထားခြင်းအပေါ် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် မြစ်ကမ်းနဖူးတစ်လျှောက် ရေထဲအပိုင်းတွင် အများပြည်သူအပန်းဖြေအနားယူရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်ရန်ကိစ္စနှင့် ပတ်သက်၍ အထက်စာပိုဒ် (၄)၊ (၅) နှင့် (၆) ပါ အချက်များကို လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နောက်ဆက်တွဲ(ယ) ၃

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(တံတား-MPA)/၂၀၁၇ (၂၃၆)
ရက်စွဲ ၊၂၀၁၇ ခုနှစ်၊ ဩဂုတ်လ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့တွင် စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ပြီး ငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၁၃.၇.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ပဆ-(၃)/(တံတား-MPA)/၂၀၁၇ (၈၉)

၁။ The Yangtze River International Investment Group Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ ရေပုန်းရပ်ကွက်၊ ဦးပိုင်အမှတ် (က/၁/၁)၊ (က/၁/၂) နှင့် (က/၁/၃)၊ အကွက်အမှတ် (၃၀) ရှိ မြေဧရိယာ (၁၁.၀၉၂) ဧကတွင် စီးပွားရေးနှင့်လူနေအဆောက်အအုံများဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် အဆိုပါ စီးပွားရေးနှင့်လူနေအဆောက်အအုံများဆောက်လုပ်မည့်နေရာသည် ဆိပ်ကမ်းနှင့်နီးကပ်ပါသောကြောင့် သဘောထားမှတ်ချက်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ညှိနှိုင်းလာခြင်းအပေါ် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပါသည်။

၂။ အဆိုပါ ကိစ္စနှင့်စပ်လျဉ်း၍ The Yangtze River International Investment Group Co.,Ltd မှ တာဝန်ရှိသူများသည် (၉.၈.၂၀၁၇)ရက်နေ့တွင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ဦးဆောင်ညွှန်ကြားရေးမှူး ဦးဆောင်သောအဖွဲ့အား မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ရုံးချုပ်၌ လာရောက်တွေ့ဆုံ၍ စီမံကိန်းဆိုင်ရာ အချက်အလက်များအား ရှင်းလင်းတင်ပြခဲ့ပြီး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အောက်ဖော်ပြပါ လိုအပ်ချက်များအပေါ် ဖြည့်ဆည်းဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြခဲ့ပါသည်-

(က) မြိတ်မြို့၊ မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေဘက်အပိုင်းတွင် အများပြည်သူအပန်းဖြေအနားယူရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်ခြင်းနှင့်ပတ်သက်၍ ရေဒေသပိုင်း အသုံးပြုခွင့်

ရရှိရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံ အသုံးပြုခွင့် သီးခြားတင်ပြရန် လိုအပ်မည်ဖြစ်ပါကြောင်းနှင့် မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေဘက်အပိုင်းတွင် အများပြည်သူ အပန်းဖြေအနားယူရန် နေရာများအပြင် စီးပွားဖြစ်အသုံးပြုမည့်နေရာများ တည်ဆောက်မည်ဆိုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ သတ်မှတ်ရေဒေသ ငှားရမ်းခများပေးဆောင်ရန် လိုအပ်မည်ဖြစ်ကြောင်း၊

(ခ) ကုမ္ပဏီသည် မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေထဲအပိုင်းတွင် အများပြည်သူ အပန်းဖြေအနားယူရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်သည့်အခါ ပတ်ဝန်းကျင်ထိခိုက်မှု ရှိ-မရှိ၊ မြိတ်ဆိပ်ကမ်းအဝင်ရေလမ်းကြောင်းနှင့် လွတ်ကင်းမှု ရှိ-မရှိ၊ ရေစီးရေလာ အဟန့်အတားမဖြစ်စေရေးနှင့် သောင်ဖြစ်ထွန်းပေါ်ပေါက်နိုင်ခြေ ရှိ-မရှိ စသည်တို့ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ စိစစ်ခွင့်ပြုချက်ရရှိရန် လိုအပ်မည်ဖြစ်ကြောင်း၊

(ဂ) မြစ်ကမ်းနဖူးတွင် စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်မည် ဖြစ်သဖြင့် သဘာဝဘေးအန္တရာယ်ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ဒီရေလှိုင်းများ၏ရိုက်ခတ်မှုကို ကာကွယ်နိုင်မည့် အစီအမံများနှင့် မြစ်တွင်းသို့ ရေဆိုးနှင့်အမှိုက်သရိုက်များ စွန့်ပစ်မှုတို့ကို ထိန်းသိမ်းကာကွယ်နိုင်မည့်အစီအမံများ ထည့်သွင်းဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ကြောင်း။

၃။ ထို့ပြင် တနင်္သာရီတိုင်းဒေသကြီး၊ ဆိပ်ကမ်းအရာရှိချုပ် (မြိတ်ဆိပ်ကမ်း) အား ကွင်းဆင်းလေ့လာစေခဲ့ရာ အဆိုပါစီမံကိန်းလုပ်ငန်းသည် ဒေသဖွံ့ဖြိုးရေးအတွက် များစွာအထောက်အကူပြုစေမည့်လုပ်ငန်းဖြစ်ပြီး မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေထဲအပိုင်းတွင် အများပြည်သူအပန်းဖြေအနားယူရန် နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ်အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်မည့် ရေဒေသပတ်ဝန်းကျင်တွင် မြစ်ကမ်းနဖူးရှိရေကာတံတိုင်းမှ မြစ်အတွင်း ပေ ၂၀၀ ကျော်ခန့်အထိ ရေစစ်သည့်အချိန်တွင် ကုန်းမြေဖြစ်ပေါ်နေကြောင်း၊ ထို့ကြောင့် လက်ရှိအခြေအနေတွင် ယင်းအဆောက်အအုံများ တည်ဆောက်ခြင်းကြောင့် မြိတ်ဆိပ်ကမ်းအဝင် ရေလမ်းကြောင်းကို ဆိုးရွားစွာ ထိခိုက်နိုင်ချေ မရှိပါကြောင်း တွေ့ရှိရပါသည်။

၄။ သို့ဖြစ်ပါ၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ကမ်းနားလမ်း၊ ရေပုန်းရပ်ကွက်၊ ဦးပိုင်အမှတ် (က/၁/၁)၊ (က/၁/၂) နှင့် (က/၁/၃)၊ အကွက်အမှတ် (၃၀) ရှိ မြေဧရိယာ (၁၁.၀၉၂) ဧကတွင် စင်ကာပူနိုင်ငံ၊ South Asia International Group Pte., Ltd မှ (၈၀ %) နှင့် မြန်မာနိုင်ငံသားများဖြစ်သော ဦးအောင်လွင်(ခ)ဦးအပ်စွေးနှင့် ဦးလှသန်းတို့မှ (၁၀%) စီထည့်ဝင်ပြီး The Yangtze River International Investment Group Co., Ltd တည်ထောင်ကာ စီးပွားရေးနှင့်လူနေအဆောက်

အအုံများဆောက်လုပ်ပြီး ငှားရမ်းခြင်းလုပ်ငန်းနှင့် မြိတ်မြစ်ကမ်းနဖူးတစ်လျှောက် ရေထဲအပိုင်းတွင် အများပြည်သူ အပန်းဖြေအနားယူရန်နေရာများနှင့် အပျော်စီးရွက်လှေများ၊ ရေယာဉ်ငယ်များ ဆိုက်ကပ် အသုံးပြုနိုင်မည့်နေရာများ တည်ဆောက်ရန်ကိစ္စအပေါ် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ညှိနှိုင်း အကြောင်းကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

# PROPOSAL OF THE PROMOTOR

FOR

JV INVESTMENT

IN

THE REPUBLIC OF THE UNION OF MYANMAR

## CONSTRUCTION, LEASING AND MANAGEMENT OF COMMERCIAL AND RESIDENTIAL BUILDINGS

AT

PLOT NO.30, HOLDING NO. A/1/1, A/1/2 AND A/1/3, KANNAR ROAD, YAY PONE WARD, MYEIK, TANINTHARYI REGION

SUBMITTED BY

THE YANGTZE RIVER INTERNATIONAL INVESTMENT GROUP COMPANY LIMITED

Date: --8---, ------May------, 2017

**The Chairman**

Myanmar Investment Commission

Yangon, Myanmar.

**Subject:** **Application for Investment Permit to invest in construction and development of Commercial and Residential Building project at Myeik , Tanintharyi Region.**

It is our honor to submit investment proposal to construct and develop of commercial and Residential Building at Plot No.30, Holding No.A/1/1, A/1/2 and A/1/3, Kannar Road, Yay Pone Ward, Myeik , Tanintharyi Region by forming a joint Venture private Limited Company **"The Yangtze River International Investment Group Co., Ltd.,"** with capital contribution of (10%) by **U Hla Than,** (10%) by **U Aung Lwin @ U At Swee** and (80 %) by South Asia International Investment Group Pte.,Ltd . (Incorporated in Singapore)

We intend to build residential buildings, commercial complex, service apartment and office building in accordance with the international standard.

While our investment of US $ 174 million is for residential and commercial areas, there are provision for 32 Floor story approximate 291,832.26 sqm, Commercial area approximate 23,183 sqm and Garage area approximate 31,057.43 sqm. In the project, 5-10# residential buildings are 32-story high with the gross height of 96m, and fall into Category 1 buildings; the bottom 3 story of 1# and 12# buildings are story of 2# and 11# buildings are used for business, the upper 25 story thereof are used for residence; the bottom 3 story of 3# and 4# buildings are used for business, the upper 29 story thereof are used for residence, the Garage is a one-story garage.

Being one of the shareholders is South Asia International Investment Group Pte., Ltd. Singaporean Investment Holding Company, belongs to the Hongkong Future Group. The group is specialized in property development and is rich with experience in investment and managing multinational property development companies.

We will invest most of construction costs in Foreign Currency (US $). However, it may be more feasible and practical to certain kinds of expenses such as the payment in labour cost in Kyat. In such case we will exchange foreign currency into Kyat at exchange counters.

The attached projection is calculated only in (US $) as there are currently rental at all and income is (US $).

We hope the above clarifications will meet the requirement. Act such, we submit herewith the proposal together with the following supporting documents.

(1) Form 2.
(2) From 6.
(3) From (7-A).

(4) List of shareholders and directors
(5) Calculation schedule of financial data
(6) Conceptual Drawing Design
(7) Draft Joint Venture Agreement
(8) Draft Land Lease Agreement and Grand
(9) Environmental Management Plan
(10) Fire Prevention Plan
(11) Welfare Programme For Employees
(12) Corporate Social Responsibility Plan
(13) Reference for business and financial standing

We will develop the project with high-end quality to become the modernized Housing & international Standard of Residential Apartments in Myanmar.

So, we hope our application will be considered favorably and look forward to fulfilling other requirements of the application process.

Yours Sincerely,

Mr. Zhang Jun

Promoter

**The Yangtze River International Investment Group Co., Ltd**

The Yangtze River International Investment Group Co.; Ltd
NO(6),Block B, Nawaday Housing, Hlaing Thar Yar Tsp, Yangon, Myanmar.
Ph+95 09-79654666 ,09-9960523598.
Email: hkfuturegroup@gmail.com

Date: ------, -----------------, 2017

**The Chairman**

Myanmar Investment Commission

Yangon, Myanmar.

**Subject:** **Environmental Conservation Plan**

We, our Company will follow all disciplines regarding maintenance of environment set by the Ministry of Environment Conservation and Forestry.

We will maintain Environment Standards regarding such as – waste water, waste gas, offensive smell and dust, noise etc.

We will Conduct Environment Impact Control, Environment Management Plan, Initial Environment Examination and in the facilities in accordance with Environmental Codes.

We will protect the environment by applying sound environment management practices.

We will comply with environmental laws and regulations.

Yours Sincerely,

Mr. Zhang Jun

Promoter

**The Yangtze River International Investment Group Co., Ltd**

**The Yangtze River International Investment Group Co.; Ltd**
NO(6),Block B, Nawaday Housing, Hlaing Thar Yar Tsp, Yangon, Myanmar.
Ph+95 09-79654666 ,09-9960523598.
Email: hkfuturegroup@gmail.com

Date: ------, ----------------, 2017

**The Chairman**

Myanmar Investment Commission

Yangon, Myanmar.

**Subject:** **Corporate Social Responsibilities (CSR) Plan**

Our Company, **The Yangtze River International Investment Group Co., Ltd,** undertakes that (2%) of net profit earned from our business will be contributed towards Corporate Social Responsibilities (CSR) and used for helping local people for their social welfare and development.

Yours Sincerely,

Mr. Zhang Jun

Promoter

**The Yangtze River International Investment Group Co., Ltd**

The Yangtze River International Investment Group Co.; Ltd
NO(6),Block B, Nawaday Housing, Hlaing Thar Yar Tsp, Yangon, Myanmar.
Ph+95 09-79654666 ,09-9960523598.
Email: hkfuturegroup@gmail.com

Date: ------, ----------------, 2017

**The Chairman**

Myanmar Investment Commission

Yangon, Myanmar.

**Subject:** **Welfare Programme For Employees**

We, **The Yangtze River International Investment Group Co., Ltd,** joint venture company, are pleased to submit the Proposal under the Myanmar Investment Law to Myanmar Investment Commission for Permit of the commission. We will build residential buildings, commercial complex, service apartment, office building and residence in accordance with the international standard at Plot No.30, Holding No.A/1/1, A/1/2 and A/1/3, Kannar Road, Yay Pone Ward, Myeik , Tanintharyi Region, Myanmar for the lease period of initial (50) years and extendable and renewable for 2 times of another 10years approved by Myanmar Investment Commission.

We will appoint about 974 employees in our project. In order that the employees may enjoy proper welfare commensurate with that Company set up a plan, as below.

Staff Transportation

For all employees who live far away from the office, shuttle buses will be rented by the company and the staff will be transported free of charge.

Uniform

All employees would be supplied with uniforms free of charge twice a year.

Health Care

An infirmary will be set up within the office and construction site with appropriate medicines. Qualified nurses will be hired by the company so that in emergency cases employees could be treated free of charge. In addition, a water purifier will be installed for staff drinking water. Appropriate sanitation facilities will be installed in the office and construction site and regular disinfection work carried out.

Risk Prevention

Evacuation Plan in case of emergency would be drafted and explained to all employees so that in case of emergency namely: earthquake, fire and other natural or manmade disasters injury or death could be avoided.

Bonus

Based on the performance of the company, annual bonus will be declared and paid out to each employee before the Myanmar New Year (Water festival). The amount of bonus will be in accordance with the amount of profit earned by the company.

Yours Sincerely,

Mr. Zhang Jun

Promoter

**The Yangtze River International Investment Group Co., Ltd**

The Yangtze River International Investment Group Co.; Ltd
NO(6),Block B, Nawaday Housing, Hlaing Thar Yar Tsp, Yangon, Myanmar.
Ph+95 09-79654666 ,09-9960523598.
Email: hkfuturegroup@gmail.com

Date: ------, ----------------, 2017

**The Chairman**

Myanmar Investment Commission

Yangon, Myanmar.

**Subject:** **Submission Of Undertaking For Payment Of Income Tax.**

We, **The Yangtze River International Investment Group Co., Ltd,** hereby undertake the payment of the income tax by employees, receiving a salary of more the MMK 4,800,000 per year.

Yours Sincerely,

Mr. Zhang Jun

Promoter

**The Yangtze River International Investment Group Co., Ltd**

The Yangtze River International Investment Group Co.; Ltd
NO(6),Block B, Nawaday Housing, Hlaing Thar Yar Tsp, Yangon, Myanmar.
Ph+95 09-79654666 ,09-9960523598.
Email: hkfuturegroup@gmail.com

Date: ------, ----------------, 2017

**The Chairman**

Myanmar Investment Commission

Yangon, Myanmar.

**Subject:** **Fire Prevention Plan of the Project.**

**"The Yangtze River International Investment Group Co., Ltd,"** is established in Plot No.30, Holding No.A/1/1, A/1/2 and A/1/3, Kannar Road, Yay Pone Ward, Myeik , Tanintharyi Region by investing in Myanmar under the Myanmar Investment Law and the Myanmar Companies Act, with a contribution of Joint Venture investment.

Our Company will obtain the Fire prevention plan of the Construction and Development of Commercial and Residential Building project as below.

1. Furnish with Fire alarm system each building its project.
2. Provide training to employees as to how fire can be protected and usage of firefighting equipment.
3. Set up fire extinguishers.
4. Inspect fire extinguishers once a week.
5. Dedicate to cleanliness and tidiness in the Project area for fire prevention.
6. Set security cameras.
7. Instruct to smoke in smoking area only.
8. Inspect electric wires once a month.

Yours Sincerely,

Mr. Zhang Jun

Promoter

**The Yangtze River International Investment Group Co., Ltd**

中华人民共和国外交部请各国军政机关对持照人予以通行的便利和必要的协助。

*The Ministry of Foreign Affairs of the People's Republic of China requests all civil and military authorities of foreign countries to allow the bearer of this passport to pass freely and afford assistance in case of need.*

护 照
PASSPORT

类型 / Type
P

国家码 / Country Code
CHN

护照号 / Passport No.
G50950990



姓 / Surname
张/ZHANG

名 / Given names
军/JUN

性别 / Sex
男/M.

出生地点 / Place of birth
重庆/CHONGQING

出生日期 / Date of birth
14 JAN 1987

签发地点 / Place of issue
重庆/CHONGQING

签发日期 / Date of issue
19 MAY 2011

有效期至 / Date of expiry
18 MAY 2021

签发机关 / Authority
公安部出入境管理局
Exit & Entry Administration
Ministry of Public Security

72131133

POCHNZHANG<<JUN<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<
G509509905CHN8701141M210518319205000<<<<<<16

中华人民共和国外交部请各国军政机关对持照人予以通行的便利和必要的协助。

*The Ministry of Foreign Affairs of the People's Republic of China requests all civil and military authorities of foreign countries to allow the bearer of this passport to pass freely and afford assistance in case of need.*

护 照
PASSPORT

类型 / Type
P

国家码 / Country Code
CHN

护照号 / Passport No.
G50943755



姓 / Surname
皮/PI

名 / Given names
大才/DACAI

性别 / Sex
男/M

出生地点 Place of birth
重庆/CHONGQING

出生日期 / Date of birth
05 FEB 1965

签发地点 / Place of issue
重庆/CHONGQING

签发日期 / Date of issue
04 MAY 2011

有效期至 / Date of expiry
03 MAY 2021

签发机关 / Authority
公安部出入境管理局
Exit & Entry Administration
Ministry of Public Security

72116636

POCHNPI<<DACAI<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<

G509437554CHN6502056M210503519205000<<<<<<14

中华人民共和国外交部请各国军政机关对持照人予以通行的便利和必要的协助。

*The Ministry of Foreign Affairs of the People's Republic of China requests all civil and military authorities of foreign countries to allow the bearer of this passport to pass freely and afford assistance in case of need.*

中华人民共和国 PEOPLE'S REPUBLIC OF CHINA

护照 PASSPORT

类型/Type P

国家码/Country Code CHN

护照号码/Passport No. E40689761



姓名/Name
王启明
WANG, QIMING

性别/Sex 男/M

国籍/Nationality 中国/CHINESE

出生日期/Date of birth 31 JUL 1976

出生地点/Place of birth 云南/YUNNAN

签发日期/Date of issue 03 2月/FEB 2015

签发地点/Place of issue 云南/YUNNAN

有效期至/Date of expiry 02 2月/FEB 2025

签发机关/Authority
公安部出入境管理局
MPS Exit & Entry Administration

持照人签名/Bearer's signature



0437905954

POCHNWANG<<QIMING<<<<<<<<<<<<<<<<<<<<<<<<<<<<<<<<

E406897613CHN7607316M2502025MNPFMGPEMDPHA948

备注 OBSERVATIONS

①本护照根据中华人民共和国第G31895022号护照补发。

This passport is issued to replace the passport No. G31895022 of the PRC.

2015年02月03日于云南
03 FEB 2015 YUNNAN



备注 OBSERVATIONS

ပုံစံ(၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ နှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏-

(က) အမည် - Mr.Zhang Jun

(ခ) အဖအမည် - Mr. Zhang

(ဂ) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/
နိုင်ငံကူးလက်မှတ်အမှတ် - G -50950990

(ဃ) နိုင်ငံသား - Chinese

(င) နေရပ်လိပ်စာ ---------------------------------------------------------------------------

(၁)ပြည်တွင်း - အမှတ် (၆)၊ အခန်း(B)၊ နဝဒေးအိမ်ရာ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(၂)ပြည်ပ - Jinqiao Village Community 5#, Gao'an Town, Dianjiang Country, Chongqing, China

(စ) တယ်လီဖုန်း/ဖက်စ် ---------------------------------------------------------------------------

(ဆ) အီးမေးလ်လိပ်စာ ---------------------------------------------------------------------------

(ဇ) ပင်မကုမ္ပဏီအမည် South Asia International Investment Group Pte., Ltd.

(ဈ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ - 12 Marina Boulevard # 17-01F2L, Marina Bay Financial Centre, Singapore 018982

(ည) လုပ်ငန်းအမျိုးအစားများ - Purchase / Lease of Residential & Commercial Corporate/ Sigapore

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ရင်းနှီးမြှုပ်နှံသူနှင့် ဖက်စပ်ပြုလုပ်မည့်သူများ၏

၁။(က) အမည် - **ဦးအောင်လွင်(ခ) ဦးအက်ဗွေး**

(ခ) အဖအမည် - **ဦးရွှေစိန်**

(ဂ) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/ - **၁၂/ အလန(နိုင်) ဂ၃၃၈၇၉**

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား - **မြန်မာ**

(င) နေရပ်လိပ်စာ ---------------------------------------------------------------------------

(၁) ပြည်တွင်း - **အမှတ်(၁၁)၊မင်းရဲကျော်စွာလမ်း၊အလုံမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။**

(၂) ပြည်ပ ---------------------------------------------------------------------------

(စ) ပင်မကုမ္ပဏီအမည် ---------------------------------------------------------------------------

(ဆ) ပင်မကုမ္ပဏီတည်ရှိရာလိပ်စာ ---------------------------------------------------------------------------

မှတ်ချက်။ အထက်အပိုဒ် ၁၊ ၂တို့နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထား (မိတ္တူ)

(၂) နိုင်ငံသားစိစစ်ရေးကဒ်အမှတ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

(၃) အဆိုပြုလုပ်ငန်းတွင် ပါဝင်လိုသူများ၏ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး ဆိုင်ရာ အထောက်အထားများ

၂။(က) အမည် - **ဦးလှသန်း**

(ခ) အဖအမည် - **ဦးဝွမ်လိုက်**

(ဂ) နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/ - **၆/ မအရ(နိုင်)ဂ၅၇၃ဂ၃**

နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား - **မြန်မာ**

(င) နေရပ်လိပ်စာ ---------------------------------------------------------------------------

(၁) ပြည်တွင်း - **မြစ်ငယ်ရပ်၊ မြိတ်မြို့၊ တနင်္သာရီတိုင်းဒေသကြီး။**

